

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၀၆/၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇူလိုင် လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးဖုန်းမြင့်

(ခ) အဘအမည် ဦးမြ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၉/မရမ(နိုင်) ၀၇၀၆၁၇

(ဃ) နေရပ်လိပ်စာ အမှတ် ၂၂၀-၂၂၂၊ ဗိုလ်တထောင်ဘုရားလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မြန်မာအထွဋ်အထိပ်သတ္တုတွင်းလုပ်ငန်းကုမ္ပဏီလီမိတက် ( Myanmar Apex Mining Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သွပ်အောက်ဆိုဒ်ထုတ်လုပ်ခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) နမ္မတူဘော်တွင်းသတ္တုတွင်းဒေသ၊ နမ္မတူမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၀၉.၀သန်း (ကျပ်နှစ်ရာ့ကိုးသန်းတိတိ)

ကျော်အောင်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅၇ /၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပထမ ဝါဆိုလဆန်း ၁၄ ရက်
(၂၀၀၁ ခုနှစ်၊ ဇူလိုင်လ ၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) တည်ထောင်၍ ရှမ်းပြည်နယ် မြောက်ပိုင်း၊ နမ္မတူမြို့နယ်၊ နမ္မတူဘော်တွင်း၊ သတ္တုတွင်းဒေသ၊ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ်(၁) သတ္တုတွင်းလုပ်ငန်းပိုင် မြေဧရိယာ (၂၀၂၃၄) စတုရန်းမီတာ (၅)ဧက ကို ငှါးရမ်း၍ ခဲ၊ သတ္တုသန့်စင် ကျိုချက်ရာမှ ထွက်ရှိသော စွန့်ပစ်ချော်ချေးများမှ သွပ်အောက်ဆိုဒ် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၅-၄-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ မူအားဖြင့် သဘောတူခဲ့သည့် အဆိုပြုချက်တွင် တင်ပြထားသည့် ကုန်ကြမ်း Hard Coke ကို ကုမ္ပဏီ၏ ပြည်ပပို့ကုန် ရောင်းရငွေဖြင့်သာ တင်သွင်းရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့် အညီ (၂၁-၆-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၄/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) သို့ သွပ် အောက်ဆိုဒ် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၀၆/၂၀၀၁ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေ တိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ် အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက် ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပ ချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေး ချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်း လုပ်ငန်း နှင့် မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) တို့သည် ဤအဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နမူနာပုံစံ ဘော်တွင်း၊ သတ္တုတွင်းပိုင် မြေငှါးရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်း လုပ်ငန်း နှင့် မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)တို့သည် မြေငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၀။ မြေငှါးရမ်းခြင်းသက်တမ်း ခွင့်ပြုသည့်ကာလမှာ စာချုပ်လက်မှတ်ရေးထိုးမည့် နေ့မှစ၍ (၁၀)နှစ် ဖြစ်သည်။

၁၁။ မြေငှါးရမ်းခအဖြစ် တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် (၂.၉၆)နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၆၀,၀၀၀ (ကျပ်ခြောက်သောင်းတိတိ) ကို နှစ်ကြိမ်ခွဲ ပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းရန်ကျရောက်သည့် နေ့မှစ၍ တစ်လအတွင်း ပေးသွင်းရမည်။

၁၂။ မြေငှါးရမ်းခနှုန်းကို (၂)နှစ်လျှင် တစ်ကြိမ်တိုးမြှင့်သတ်မှတ်နိုင်ပြီး တိုးမြှင့်ရာတွင်လည်း မူလသတ်မှတ်ထား သည့်နှုန်းထားထက် အများဆုံး (၁၅)ရာခိုင်နှုန်းထိ တိုးမြှင့် သတ်မှတ်နိုင်သည်။

၁၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။

၁၇။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင် ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၂၀။ မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၇၁၉/၂၀၀၁ (၂၆၈၄-၁)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇူလိုင်လ ၄ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန် အတွက်)

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်း ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီ မြန်မာ[illegible]အထိပ်သ[illegible]လုပ်ငန်း ကုမ္ပဏီလီမိတက်သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ

၄၁၀၇၇/၂/၉  31682/#47

အထွေထွေ အရပ်ရပ် – ၁၆

(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန် အတွက်)

အကြောင်းအရာ။ ။<u>သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ်(၁)သတ္တုတွင်းလုပ်ငန်း ပိုင်နယ်မြေ ဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာအထွဋ်အထိပ်သတ္တုတွင်း လုပ်ငန်း ကုမ္ပဏီလီမိတက် တည်ထောင်၍ စွန့်ပစ်ချော်ချေး များ မှ ဇင့်အောက်ဆိုဒ်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာအထွဋ်အထိပ်သတ္တုတွင်း လုပ်ငန်း ကုမ္ပဏီလီမိတက် ( Myanmar Apex Mining Co., Ltd. ) က တည်ထောင်၍ သတ္တုတွင်း ဝန်ကြီး ဌာန၊ အမှတ်(၁) သတ္တုတွင်း လုပ်ငန်း ပိုင်နယ်မြေ ဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် စွန့်ပစ်ချော်ချေး များ မှ ဇင့် အောက်ဆိုဒ်ထုတ်လုပ်ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၅-၄-၂၀၀၁) နေ့တွင်ကျင်း ပပြုလုပ်သည့်မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၁၁/၂၀၀၁) ကြိမ်မြောက် အစည်း အဝေး သို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအား ဖြင့်သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁) နေ့တွင်ကျင်း ပသောကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၄/၂၀၀၁) ကြိမ် မြောက် အစည်း အဝေး သို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်း အဝေး မှသဘောတူညီချက် အရအစိုး ရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံး ဖြတ်ချက်နှင့်အညီ (၂၁-၆-၂၀၀၁) နေ့တွင်ကျင်း ပပြုလုပ်သည့်ပြည် ထောင်စုမြန်မာနိုင်ငံတော်အစိုး ရအဖွဲ့၏ (၂၄/၂၀၀၁) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ရာ ယင်း အစည်းအဝေး မှ သဘောတူကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၄၁/၂၀၀၁ (၁၂၇၅)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၁၄ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွဋ်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွဋ်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၅-၄-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၇-၄-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာတွင် မူအားဖြင့် သဘောတူခဲ့ပါသည်။ အဆိုပါ အဆိုပြုချက်တွင် ကုန်ကြမ်း Hard Coke ကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြခဲ့ပါသည်။ ယခုအခါ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်သည့် (၁၇/၂၀၀၁) အစည်းအဝေးမှ ပြည်ပမှ ကုန်ကြမ်း တင်သွင်းမှုနှင့်ပတ်သက်သည့် လမ်းညွှန်ချက်အရ လမ်းညွှန်မှု ပြုနိုင်ပါရန် (၃၀-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁) အစည်းအဝေးသို့ ထပ်မံတင်ပြခဲ့ပါသည်။ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူခဲ့သည့် အဆိုပြုချက်တွင် တင်ပြထားသည့် ကုန်ကြမ်း Hard Coke ကို ကုမ္ပဏီ၏ပြည်ပပို့ကုန်ရောင်းရငွေဖြင့် သာတင်သွင်းရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ် (မူကြမ်း)နှင့် ဌာနေချုပ်ရုံး၏ သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၅၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၀၉.၀၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ Xian Metal Co., Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် တစ်နှစ်လျှင် အတိုးနှုန်း (၃)ရာခိုင်နှုန်းဖြင့် ရယူမည်ဖြစ်ပြီး (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို နယ်စပ်နှင့် ရေလမ်းများမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် စွန့်ပစ်ချော်ချေးများကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၂၂) နှုန်းဖြင့် ဝယ်ယူမည်ဖြစ်ပြီး Hard Coke ကို ပုံမှန်နှစ်တွင် တစ်နှစ်လျှင် မက်ထရစ်တန် (၃၀၀၀)၊ အမေရိကန်ဒေါ်လာ (၀.၃၆)သန်းဖိုး ပြည်ပမှ တင်သွင်းရန် လိုအပ်မည် ဖြစ်ပါသည်။ နှစ်စဉ် Hard Coke လိုအပ်ချက်ကို နောက်ဆက်တွဲ(၂)အဖြစ် တင်ပြထားပါသည်။ အဆိုပါ Hard Coke ကို တစ်လလျှင် တစ်ကြိမ်နှုန်းဖြင့် တရုတ်ပြည် ရွှေလီမြို့မှ ဝယ်ယူတင်သွင်းမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် ကနဦး တင်သွင်းမည့် ကုန်ကြမ်းအတွက် လိုအပ်သော နိုင်ငံခြားငွေများကို မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်တွင်ရှိသည့် ၄င်းတို့၏ သီးခြားကုမ္ပဏီ တစ်ခုဖြစ်သော M. Apex Construction Co., Ltd. ပိုင်ငွေဖြင့် ဝယ်ယူမည် ဖြစ်ကြောင်း နှင့် နှစ်စဉ်လိုအပ်ချက်ကို ပြည်ပပို့ကုန် ရောင်းရငွေဖြင့်သာ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ ယင်းလုပ်ငန်းကို သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် ရှမ်းပြည်နယ် မြောက်ပိုင်း၊ နမ္မတူမြို့နယ်ရှိ နမ္မတူဘော်တွင်း သတ္တုတွင်းပိုင်မြေ (၅) ဧက (၂၀၂၃၄.၃၀စတုရန်းမီတာ) ကို ငှားရမ်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းနှင့် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းခြင်း သက်တမ်းကာလသည် စာချုပ်ချုပ်ဆိုလက်မှတ် ရေးထိုးသည့် နေ့မှစ၍ (၁၀)နှစ်ဖြစ်ပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် (၂.၉၆)နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် (၆၀,၀၀၀) ကို (၂)ကြိမ်ခွဲပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းရန် ကျရောက်သည့် နေ့မှစ၍ (၁)လအတွင်း ပေးသွင်းရမည် ဖြစ်ပါသည်၊

(ဂ) မြေငှားရမ်းခနှုန်းထားကို (၂)နှစ်လျှင် တစ်ကြိမ်တိုးမြှင့် သတ်မှတ်နိုင်ပြီး၊ တိုးမြှင့်ရာ တွင်လည်း မူလ သတ်မှတ်ထားသည့်နှုန်းထားထက် အများဆုံး (၁၅) ရာခိုင်နှုန်းထိ တိုးမြှင့် သတ်မှတ်နိုင်သည်၊

(ဃ) မြေငှားရမ်းကာလပြီးဆုံးသည့်အခါ တည်ဆောက်ထားသည့် ခိုင်မာသော အဆောက်အဦ များကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ အဖိုးစားနား မပေးရဘဲ လွှဲပြောင်းပေးရမည်၊

၆။ ယင်းလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် စွန့်ပစ်ချော်ချေးများမှာ နမ္မတူဘော်တွင်း စတင် တည်ထောင်စဉ်ကာလကပင် စွန့်ပစ်လိုက်သည့် ချော်ချေးများဖြစ်ပြီး အဆိုပါစွန့်ပစ်ချော်ချေးများတွင် သွပ် (၁၅) ရာခိုင်နှုန်း၊ ခဲ (၂) ရာခိုင်နှုန်းခန့် ကျန်ရှိသဖြင့် စွန့်ပစ်ပုံတွင် တန် ချိန် (၂.၆) သန်းခန့် စုပုံ ရှိထားကြောင်း တင်ပြထားပါသည်။ စွန့်ပစ်ချော်ချေးများကို အသုံးပြု၍ ပုံမှန်နှစ်တွင် ဇင့်အောက်ဆိုဒ် မက်ထရစ်တန် (၅၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၂၀) ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၈၀) ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့် (၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၄၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၁၃.၇၅ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၂၁.၀၀ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၄ သန်း |
| (ဂ) | မြေငှားရမ်းခ | ကျပ် | ၀.၀၆ သန်း |
| (ဃ) | ချော်ချေးရောင်းချခြင်းဖြင့် သ.တ.လ (၁) မှရငွေ | အမေရိကန်ဒေါ်လာ | ၁.၁၀ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၂၅)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု နှင့် ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ခဲနှင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

နောက်ဆက်တွဲ (၂)

မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ
နှစ်စဉ် ပြည်ပမှ Hard Coke တင်သွင်းရန်လိုအပ်ချက်စာရင်း

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပထမနှစ် | ဒုတိယနှစ် | တတိယနှစ် | စတုတ္ထနှစ်မှ ၁၅ နှစ်အထိ |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | နှစ်စဉ်လိုအပ်ချက် | MT | ၁၈၀၀ | ၂၄၀၀ | ၃၀၀၀ | ၃၀၀၀ |
| ၂။ | ဈေးနှုန်း | US$/MT | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ |
| ၃။ | တန်ဖိုး | US $ (000) | ၂၁၆ | ၂၈၈ | ၃၆၀ | ၃၆၀ |

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၄၁/၂၀၀၁ (က၇၀-၃)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၂၄ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၅-၄-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၇-၄-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာတွင် မူအားဖြင့် သဘောတူခဲ့ပါသည်။ အဆိုပါ အဆိုပြုချက်တွင် ကုန်ကြမ်း Hard Coke ကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြခဲ့ပါသည်။ ယခုအခါ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်သည့် (၁၇/၂၀၀၁) အစည်းအဝေးမှ ပြည်ပမှ ကုန်ကြမ်း တင်သွင်းမှုနှင့်ပတ်သက်သည့် လမ်းညွှန်ချက်အရ လမ်းညွှန်မှု ပြုနိုင်ပါရန် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ပြန်လည်တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ် (မူကြမ်း)နှင့် ဇုရှနေချုပ်ရုံး၏ သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၅၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၀၉.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၄၀.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၆၀.၀၀)သန်းနှင့် စက်ပစ္စည်းကိရိယာများ တန်ဖိုး ကျပ် (၉.၀၀)သန်း {အမေရိကန်ဒေါ်လာ (၁.၅၀)သန်း} တည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်၊ စက်ပစ္စည်းကိရိယာများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ Xian Metal Co., Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် တစ်နှစ်လျှင် အတိုးနှုန်း (၃)ရာခိုင်နှုန်းဖြင့်

ရယူမည်ဖြစ်ပြီး (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို နယ်စပ်နှင့် ရေလမ်းများမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ခွန်ပစ်ချော်ချေးများကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၂၂) နှုန်းဖြင့် ဝယ်ယူမည်ဖြစ်ပြီး Hard Coke ကို ပုံမှန်နှစ်တွင် တစ်နှစ်လျှင် မက်ထရစ်တန် (၃၀၀၀)၊ အမေရိကန်ဒေါ်လာ (၀.၃၆)သန်းဖိုး ပြည်ပမှ တင်သွင်းရန် လိုအပ်မည် ဖြစ်ပါသည်။ နှစ်စဉ် Hard Coke လိုအပ်ချက်ကို နောက်ဆက်တွဲ(၂)အဖြစ် တင်ပြထားပါသည်။ အဆိုပါ Hard Coke ကို တစ်လလျှင် တစ်ကြိမ်နှုန်းဖြင့် တရုတ်ပြည် ရွှေလီမြို့မှ ဝယ်ယူတင်သွင်းမည် ဖြစ်ကြောင်းနှင့် အဆိုပြုလုပ်ငန်းအတွက် ကနဦး တင်သွင်းမည့် ကုန်ကြမ်းအတွက် လိုအပ်သော နိုင်ငံခြားငွေများကို မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်တွင်ရှိသည့် ၄င်းတို့၏ သီခြားကုမ္ပဏီ တစ်ခုဖြစ်သော M. Apex Construction Co., Ltd. ပိုင်ငွေဖြင့် ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ ယင်းလုပ်ငန်းကို သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် ရှမ်းပြည်နယ် မြောက်ပိုင်း၊ နမ္မတူမြို့နယ်ရှိ နမ္မတူဘော်တွင်း သတ္တုတွင်းပိုင်မြေ (၅) ဧက (၂၀၂၃၄.၃ စတုရန်းမီတာ) ကို ငှားရမ်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းနှင့် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) မြေငှားရမ်းခြင်း သက်တမ်းကာလသည် စာချုပ်ချုပ်ဆိုလက်မှတ် ရေးထိုးသည့် နေ့မှစ၍ (၁၀)နှစ်ဖြစ်ပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် (၂.၉၆)နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် (၆၀,၀၀၀) ကို (၂)ကြိမ်ခွဲပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းရန် ကျရောက်သည့် နေ့မှစ၍ (၁)လအတွင်း ပေးသွင်းရမည် ဖြစ်ပါသည်၊

(ဂ) မြေငှားရမ်းခနှုန်းထားကို (၂)နှစ်လျှင် တစ်ကြိမ်တိုးမြှင့် သတ်မှတ်နိုင်ပြီး၊ တိုးမြှင့်ရာ တွင်လည်း မူလ သတ်မှတ်ထားသည့်နှုန်းထားထက် အများဆုံး (၁၅) ရာခိုင်နှုန်းထိ တိုးမြှင့် သတ်မှတ်နိုင်သည်၊

(ဃ) မြေငှားရမ်းကာလပြီးဆုံးသည့်အခါ တည်ဆောက်ထားသည့် ခိုင်မာသော အဆောက်အဦ များကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ အဖိုးစားနား မပါရှိဘဲ လွှဲပြောင်းပေးရမည်၊

၆။ ယင်းလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် ခွန်ပစ်ချော်ချေးများမှာ နမ္မတူဘော်တွင်း စတင် တည်ထောင်စဉ်ကာလကပင် ခွန်ပစ်လိုက်သည့် ချော်ချေးများဖြစ်ပြီး အဆိုပါခွန်ပစ်ချော်ချေးများတွင် သွပ် (၁၅) ရာခိုင်နှုန်း၊ ခဲ (၂) ရာခိုင်နှုန်းခန့် ကျန်ရှိသဖြင့် ခွန်ပစ်ပုံတွင် တန်ချိန် (၂.၆) သန်းခန့် စုပုံ ရှိထားကြောင်း တင်ပြထားပါသည်။ ခွန်ပစ်ချော်ချေးများကို အသုံးပြု၍ ပုံမှန်နှစ်တွင် ဇင့်အောက်ဆိုဒ် မက်ထရစ်တန် (၅၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၂၀) ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၈၀) ရာခိုင်နှုန်း

ရောင်းချမည် ဖြစ်ပါသည်။ ဇင့်အောက်ဆိုဒ်များကို မက်ထရစ်တစ်တန်လျှင် ပြည်တွင်းတွင် ကျပ် (၂၁၀၀၀၀) နှုန်းနှင့် ပြည်ပသို့ အမေရိကန်ဒေါ်လာ (၆၀၀) နှုန်းဖြင့် ရောင်းချမည် ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၁၀.၀၀ | ၁၄.၄၀ | ၂၂၄.၄၀ |
| (ခ) | အသုံးစရိတ် | ၁၇၇.၉၃ | ၁၁.၄၄ | ၁၈၉.၃၇ |
| (ဂ) | အသားတင်အမြတ် | ၃၂.၀၇ | ၂.၉၆ | ၃၅.၀၃ |

၈။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့် (၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၄၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၁၃.၇၅ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၂၁.၀၀ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၄ သန်း |
| (ဂ) | မြေငှားရမ်းခ | ကျပ် | ၀.၀၆ သန်း |
| (ဃ) | ချော်ချေးရောင်းချခြင်းဖြင့် သ.တ.လ (၁) မှရငွေ | အမေရိကန်ဒေါ်လာ | ၁.၁၀ သန်း |

၁၀။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၂၅)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့ တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးယူသူ၏ တာဝန်သာဖြစ်ကြောင်း၊ ပြန်လည်ပေးဆပ်ရာတွင်လည်း အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်၊ စက်ပစ္စည်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။
သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွန်းအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ခဲဒင်္ဂါးအောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းနှင့် ပတ်သက်၍ လမ်းညွှန်မှုပြုပါရန်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ တောက်ခံချက်။
ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်<br>(Myanmar Apex Mining Co., Ltd.) | ၁။ ဦးဖုန်းမြင့်<br>(မန်နေဂျင်း ဒါရိုက်တာ)<br>၂။ ဦးအိုက်ရှန်<br>(ဒါရိုက်တာ) | အမှတ် (၂၂၀-၂၂၂)၊ ဗိုလ်တထောင်ဘုရားလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ် (၁၂/က)၊ ကမ္ဘာအေးဘုရားလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |

နောက်ဆက်တွဲ (၂)

မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ
နှစ်စဉ် ပြည်ပမှ Hard Coke တင်သွင်းရန်လိုအပ်ချက်စာရင်း

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပထမနှစ် | ဒုတိယနှစ် | တတိယနှစ် | စတုတ္ထနှစ်မှ ၁၅ နှစ်အထိ |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | နှစ်စဉ်လိုအပ်ချက် | MT | ၁၈၀၀ | ၂၄၀၀ | ၃၀၀၀ | ၃၀၀၀ |
| ၂။ | ဈေးနှုန်း | US$/MT | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ |
| ၃။ | တန်ဖိုး | US $ (000) | ၂၁၆ | ၂၈၈ | ၃၆၀ | ၃၆၀ |

လုပ်ငန်း စီမံကိန်း အဆို

(မြန်မာနိုင်ငံသား များ ရ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | မြ |
| | | လ |
| | | (M |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | ဦး |
| ၃ | အဆိုပြုလုပ်ငန်း အမျိုး အစား | ဗွန့် |
| ၄ | တည်နေရာ | ထုတ်လု |
| | | နမ္မတူ |
| | | နမ္မတူ |
| ၅ | မူရ ပေါင်းရင်း နှင့် မြှုပ်နှံမှု | |
| | - ငွေပမာဏ | ကျပ် ၂ |
| | - အဆောက်အဦ | ကျပ် ၁၄ |
| | - စက်ပစ္စည်း ကိရိယာများ | ကျပ် ၆ |
| ၆ | မြေအကြောင်း အရာ | ကျပ် |
| | - မြေအကျယ်အဝန်း | |
| | - မြေပိုင်ဆိုင်မှု | (၅) ဧက |
| | | သဏ္ဍာတွင်း |
| | - မြေအမျိုး အစား | လုပ်ငန်း |
| | - မြေငှား ရမ်း ကာလ | နိုင်ငံပိုင် |
| | - မြေငှား ရမ်း ခ | (၁၀) နှစ် |
| | | ကျပ် ၀.၈၆ သ |
| ၇ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | |
| | ဇင့်အောက်ဆိုဒ် | မက်ထ |
| | | ၅ |
| ၈ | ရောင်းချမည့်နည်း စနစ် | |
| | - ပြည်တွင်း | ၂၀ % |
| | - ပြည်ပ | ၈၀ % |

၁၁/၂၀၀၁
၆/၄/၂၀၀၁ (5/4/2001)

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အကျဉ်းချုပ်အချက်များ
(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | မြန်မာအထွဋ်အထိပ်သတ္တုတွင်းလုပ်ငန်းကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | ဦးဖုန်းမြင့် |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | စွန့်ပစ်ချောင်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄ | တည်နေရာ | နမ္မတူဘော်တွင်းသတ္တုတွင်းဒေသ<br>နမ္မတူမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၀၉.၀၀ သန်း (US $ ၁.၅၀ သန်းအပါအဝင်) |
| | - ငွေပမာဏ | |
| | - အဆောက်အဦ | ကျပ် ၁၄၀.၀၀ သန်း |
| | - စက်ပစ္စည်း ကိရိယာများ | ကျပ် ၆၀.၀၀ သန်း |
| | | ကျပ် ၉.၀၀ သန်း (US $ ၁.၅၀ သန်း) |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | (၅) ဧက (၂၀၂၃၄.၃ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၁)သတ္တုတွင်း<br>လုပ်ငန်းပိုင်မြေ |
| | - မြေအမျိုးအစား | နိုင်ငံပိုင်မြေ |
| | - မြေငှားရမ်းကာလ | (၁၀) နှစ် |
| | - မြေငှားရမ်းခ | ကျပ် ၀.၀၆ သန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၂.၉၆ ကျပ်နှုန်း) |
| ၇ | ထုတ်လုပ်မှု (ပုံမှန်နှစ်)<br>ဇင့်အောက်ဆိုဒ် | မက်ထရစ်တန်<br>၅၀၀၀ |
| ၈ | ရောင်းချမည့်နည်းစနစ် | |
| | - ပြည်တွင်း | ၂၀ % |
| | - ပြည်ပ | ၈၀ % |

| | | | |
|---|---|---|---|
| ၉ | ရောင်းဈေးနှုန်း | ပြည်တွင်းရောင်း (Ks/MT ) | ပြည်ပရောင်း (US $/ MT) |
| | - ဇင့်အောက်ဆိုဒ် | ၂၁၀၀၀၀ | ၆၀၀ |
| ၁၀ | ဝင်ငွေ ( ပုံမှန်နှစ် ) | | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၂.၄၀သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၂၁၀.၀၀သန်း | |
| ၁၁ | အသားတင်အမြတ် ( ပုံမှန်နှစ် ) | | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၀.၄၉သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၃၂.၀၇သန်း | |
| ၁၂ | အရင်းကြေကာလ | (၅)နှစ်နှင့်(၁)လ | |
| ၁၃ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | (၂၂.၄၀)ရာခိုင်နှုန်း | |
| ၁၄ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် | US $ ၀.၀၉သန်း<br>ကျပ် ၁၃.၇၅သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန်<br>(ပြည်တွင်းရောင်းရငွေပေါ် ၁၀ %)<br>(ပြည်ပရောင်းရငွေပေါ် ၁၀ %) | ကျပ် ၂၁.၀၀သန်း<br>US $ ၀.၂၄သန်း | |
| | - မြေငှားရမ်းခ | ကျပ် ၀.၀၆သန်း | |
| | - ချော်ချေးရောင်းချခြင်းဖြင့် သ.တ.လ(၁)မှရငွေ | US $ ၁.၁၀သန်း | |
| ၁၅ | တည်ဆောက်မှုကာလ | (၆)လ | |
| ၁၆ | ဝန်ထမ်းအင်အား | ၁၃၀ဦး | |
| | - ပြည်တွင်း | ၁၂၅ဦး | |
| | - ပြည်ပ | ၅ဦး | |
| ၁၇ | အခြား | - စက်ပစ္စည်းကိရိယာများကိုတရုတ်ပြည်သူ့သမ္မတနိုင်ငံ Xian Metal Co., Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်တင် | |

နှစ်လျှင်အတိုးနှုန်း (၃) ရာခိုင်နှုန်းဖြင့်ရယူမည်ဖြစ်ပြီး (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ စက်ပစ္စည်းများကို နယ်စပ်နှင့် ရေလမ်းများမှ ဝယ်ယူတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

- စက်ပစ္စည်းစာရင်းကို ပူးတွဲတင်ပြထားပါသည်။
- Dump Truck (8 - 15 ton) - (၅) စီးမှာ သွန့်ပစ်ချော်ချေးများကို ကျိုချက်စက်ရုံသို့ သယ်ယူရန်အတွက်ဖြစ်ကြောင်း၊ တစ်နေ့လျှင်ပုံမှန် (၄) စီး အသုံးပြုရပြီး (၁) စီးကို အရန်အဖြစ်ထားရှိရန်ဖြစ်ကြောင်း တင်ပြထားပါသည်။
- နှစ်စဉ်ငှားရမ်းခ ငွေကျပ် (၀.၈၆) သန်းကို တစ်နှစ်လျှင်နှစ်ကြိမ်ခွဲ ပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းရန်ကျရောက်သည့်နေ့မှစ၍ (၁) လအတွင်း ပေးသွင်းရမည်ဖြစ်ပါသည်။

[မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၄ - ၁]

- မြေငှားရမ်းခနှုန်းထားကို (၂) နှစ်လျှင် တစ်ကြိမ်တိုးမြှင့်သတ်မှတ်နိုင်ပြီး၊ အများဆုံး (၁၅) ရာခိုင်နှုန်းအထိတိုးမြှင့်နိုင်သည်။

[မြေငှားစာချုပ်မူကြမ်း အပိုဒ် ၄ - ၂]

- ငှားရမ်းကာလပြီးဆုံးသည့်အခါတည်ဆောက်ထားသည့် နိုင်မာသောအဆောက်အဦများကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ အဖိုးစားနား မပါရှိဘဲလွှဲပြောင်းပေးရမည်ဖြစ်ပြီး၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများကို ကုမ္ပဏီစရိတ်ဖြင့် ရွှေ့ပြောင်းနိုင်သည်။

[မြေငှားစာချုပ်မူကြမ်း အပိုဒ် ၁၂ - ၁]

- အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် Hard Coke. ကိုပြည်ပမှဝယ်ယူမည်ဖြစ်ပြီး စွန့်ပစ်ချော်ချေးများကိုအမှတ် (၁) သတ္တုတွင်းလုပ်ငန်းမှဝယ်ယူရာတွင်နိုင်ငံခြားငွေဖြင့်တစ်တန်လျှင် US $၂၂ နှုန်းဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ စွန့်ပစ်ချော်ချေး ရောင်းချရေးကို စာချုပ်ဖြင့်ဆောင်ရွက်သွားရန်ဖြစ်ပါသည်။
- အဆိုပါစွန့်ပစ်ချော်ချေးများမှာနမ္မတူဘော်တွင်း စတင်တည်ဆောက်စဉ်ကာလကပင် စွန့်ပစ်လိုက်သည့်စွန့်ပစ်ချော်ချေးများဖြစ်ပါသည်။ အဆိုပါစွန့်ပစ်ချော်ချေးတွင်သွပ် ၁၄ %၊ ခဲ ၂ %ခန့်ကျန်ရှိသဖြင့်စွန့်ပစ်ပုံတွင် တန်ချိန် (၂.၆) သန်းခန့်ရုပုံရရှိထားကြောင်း တင်ပြထားပါသည်။
- စွန့်ပစ်ချော်ချေးများကိုကျိုချက်ရာတွင် Zinc Oxide (၁၀ %) ခန့်ထွက်ရှိပြီး၊ စွန့်ပစ်ပြာ (Fried Ash) (၉၀ %-) ထွက်ရှိမည်ဖြစ်သဖြင့်အဆိုပါစွန့်ပစ်ပြာများကို ဘိလပ်မြေများထုတ်လုပ်ရာတွင်အဓိကကုန်ကြမ်း အဖြစ်အသုံးပြုနိုင်သဖြင့်ဘိလပ်မြေထုတ်လုပ်သွား ရန်ကိုလည်း ရည်ရွယ်ထားကြောင်း တင်ပြထားပါသည်။
- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီးဘေး အန္တရာယ်များအတွက်ကြိုတင်ကာကွယ်မှုများပြုလုပ်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်း

# LIST OF MACHINERIES AND EQUIPMENT Etc.

| Sr. No. | Particular | Qty. | Unit Price in US$ | Amount in US$ | Remark |
|---|---|---|---|---|---|
| 1 | Jaw Crusher PE 250 & Accessories | 5 Set | 3000 | 15000 | |
| 2 | Furnace & Accessories | 5 Set | 80000 | 400000 | |
| 3 | Air Compressor & Accessories | 5 Set | 12000 | 60000 | |
| 4 | Motor 300 KVA | 5 Nos | 2000 | 10000 | |
| 5 | Pump & Accessories | 1 Set | 5000 | 5000 | |
| 6 | Transformer 315 KVA | 1 Set | 40000 | 40000 | |
| 7 | Bulldozer | 2 Nos | 130000 | 260000 | |
| 8 | Loader | 2 Nos | 120000 | 240000 | |
| 9 | Backhoe / Hydraulic Excavator | 2 Nos | 120000 | 240000 | |
| 10 | Dump Truck ( 8-15 ton ) | 5 Nos | 10000 | 50000 | |
| 11 | Spare Parts for | | | | |
| | (1) Jaw Crusher | 1 Lot | 20000 | 20000 | |
| | (2) Furnace | 1 Lot | 50000 | 50000 | |
| | (3) Bulldozer | 1 Lot | 20000 | 20000 | |
| | (4) Loader | 1 Lot | 20000 | 20000 | |
| | (5) Backhoe | 1 Lot | 20000 | 20000 | |
| | (6) Electritical Spare | 1 Lot | 50000 | 50000 | |
| | Total | | | 1500000 | |

c:\mic\APEX.XLSM(3)

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေး အတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျှောက်ထားမှု မရှိ၍ သို့ လျှောက်ထားလာသည့်အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပသို့ကုန်ပို့ရောင်းချခြင်း မှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀%) ဝင်ငွေ ခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အ ထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြချက်ပါမဝင်ငွေ ခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်ကော်မရှင်သို့လျှောက် ထားလာသည့်အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်း ပြည်ပ ဝင်ငွေတိုး တက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ကိုလုပ်ငန်း အကောင်အထည် ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစား ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အခွန်များ တိုးချဲ့လုပ်ငန်း အဖြစ် အကျိုးအမြတ်နှင်းသည့်လုပ်ငန်း အပေါ် သင့်လျော်သော ကာလအတိ ဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်း ကိုအကျုံးဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။



*၅၀ / ၂

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုင်းနှင့်မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများအပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုနိုင်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုနိုင်ပါသည်။



*ယ၀၆/၁၁

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၄၁/ ၂၀၀၁ (၄၁၀ - ၈)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဧပြီလ ၂၄ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း သတ္တုတွင်း မြေပေါ်တွင် မြန်မာ အထွင့်အထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက် (Myanmar Apex Mining Co., Ltd.) တည်ထောင်၍ စွန့်ပစ် ချော်ချေးများမှ ဇင့်အောက်ဆိုဒ် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၅-၄-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ် (မူကြမ်း)နှင့် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၅၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၀၉.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၄၀.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၆၀.၀၀)သန်းနှင့် စက်ပစ္စည်းကိရိယာများ တန်ဖိုး ကျပ် (၉.၀၀)သန်း {အမေရိကန်ဒေါ်လာ (၁.၅၀)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ Xian Metal Co., Ltd. မှ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် တစ်နှစ်လျှင် အတိုးနှုန်း (၃)ရာခိုင်နှုန်းဖြင့် ရယူမည်ဖြစ်ပြီး (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို နယ်စပ်နှင့် ရေလမ်းများမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် Hard Coke ကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး စွန့်ပစ်ချော်ချေးများကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် တစ်တန်လျှင် အမေရိကန် ဒေါ်လာ (၂၂) နှုန်းဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းကို သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းပိုင် ရှမ်းပြည်နယ် မြောက်ပိုင်း၊ နမ္မတူမြို့နယ်ရှိ နမ္မတူဘော်တွင်း သတ္တုတွင်းပိုင်မြေ (၅) ဧက (၂၀၂၃၄.၃ စတုရန်းမီတာ) ကို ငှားရမ်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ် (၁) သတ္တုတွင်းလုပ်ငန်းနှင့် မြန်မာ အထွေထွေအထိပ် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းခြင်း သက်တမ်းကာလသည် စာချုပ်ချုပ်ဆိုလက်မှတ် ရေးထိုးသည့် နေ့မှစ၍ (၁၀)နှစ်ဖြစ်ပါသည်၊

(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်တစ်စတုရန်းမီတာလျှင် ကျပ် (၂.၉၆)နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် (၆၀,၀၀၀) ကို (၂)ကြိမ်ခွဲပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းရန် ကျရောက်သည့် နေ့မှစ၍ (၁)လအတွင်း ပေးသွင်းရမည် ဖြစ်ပါသည်၊

(ဂ) မြေငှားရမ်းခနှုန်းထားကို (၂)နှစ်လျှင် တစ်ကြိမ်တိုးမြှင့် သတ်မှတ်နိုင်ပြီး၊ တိုးမြှင့်ရာတွင်လည်း မူလ သတ်မှတ်ထားသည့်နှုန်းထားထက် အများဆုံး (၁၅) ရာခိုင်နှုန်းထိ တိုးမြှင့် သတ်မှတ်နိုင်သည်၊

(ဃ) မြေငှားရမ်းကာလပြီးဆုံးသည့်အခါ တည်ဆောက်ထားသည့် ခိုင်မာသော အဆောက်အဦများကို အမှတ် (၁) သတ္တုတွင်းလုပ်ငန်းသို့ အဖိုးစားနား မပါရှိဘဲ လွှဲပြောင်းပေးရမည်၊

၆။ ယင်းလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် စွန့်ပစ်ချော်ချေးများမှာ စတင်တည်ထောင်စဉ်ကာလကပင် စွန့်ပစ်လိုက်သည့် ချော်ချေးများဖြစ်ပြီး အဆိုပါစွန့်ပစ်ချော်ချေးများတွင် သွပ် (၁၅) ရာခိုင်နှုန်း၊ ခဲ (၂) ရာခိုင်နှုန်းခန့် ကျန်ရှိသဖြင့် စွန့်ပစ်ပုံတွင် တန်ချိန် (၂.၆) သန်းခန့် စုပုံရှိထားကြောင်း တင်ပြထားပါသည်။ စွန့်ပစ်ချော်ချေးများကို အသုံးပြု၍ ပုံမှန်နှစ်တွင် ဇင့်အောက်ဆိုဒ် မက်ထရစ်တန် (၅၀၀၀) ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းတွင် (၂၀) ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၈၀) ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပါသည်။ ဇင့်အောက်ဆိုဒ်များကို မက်ထရစ်တစ်တန်လျှင် ပြည်တွင်းတွင် ကျပ် (၂၁၀၀၀၀) နှုန်းနှင့် ပြည်ပသို့ အမေရိကန်ဒေါ်လာ (၂၁၀) နှုန်းဖြင့် ရောင်းချမည် ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၁၀.၀၀ | ၁၄.၄၀ | ၂၂၄.၄၀ |
| (ခ) | အသုံးစရိတ် | ၁၇၇.၆၃ | ၁၁.၄၄ | ၁၈၉.၃၇ |
| (ဂ) | အသားတင်အမြတ် | ၃၂.၀၇ | ၂.၉၆ | ၃၅.၀၃ |

၈။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့် (၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၄၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၃။ **အငှားချထားသူကငှားရမ်းသည့်မြေပေါ်သို့ပြန်လည်ဝင်ရောက်ခွင့်**

၁၃-၁ "အငှားချထားခြင်းခံရသူ"သည် ဤစာချုပ်ပါ စည်းကမ်းများကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ"က ယင်းကဲ့သို့ ဖေါက်ဖျက်မှုကို အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း(၃၀)အတွင်း ယင်းအကြောင်းကြားစာကို အတည်ပြုပြန်ကြားရန် ပျက်ကွက်ပါက "အငှားချထားသူ"သည် အငှားချထားသည့်မြေကို ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ ထို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်း သည် "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ"ထံမှ ရရန်ရှိသော ငှားရမ်းခ( သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်း မရှိစေရ။

၁၄။ **အထွေထွေ**

၁၄-၁ ဤစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဖက်အတည်ပြုထားသော သဘောတူညီချက်ဖြစ်သည်။ ဤကိစ္စနှင့် ပတ်သက်၍ ယခင်က နှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း၊ သဘောတူညီချက်ရှိခဲ့လျှင် ထို သဘောတူညီချက်များသည် အကျိုးသက်ရောက်မှုမရှိစေရ။

၁၄-၂ စာချုပ်နှင့်စပ်လျဉ်း၍ အကြောင်းကြားစာပေးပို့ခြင်းနှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ ဖက်စီမလီ၊ တဲလက်စ်၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေ ကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ရာတွင် အောက်ဖေါ်ပြပါလိပ်စာများအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
|---|---|
| ဦးစောလွင် | ဦးဘုန်းမြင့် |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| အမှတ်(၁)သတလ | မြန်မာအထွေထွေအထိပ်သတ္တုတွင်းလုပ်ငန်းကုမ္ပဏီလီမိတက် |
| အမှတ်(၉၀)ကံဘဲ့လမ်း၊ | အမှတ်(၂၂၂)၊ ဗိုလ်မြတ်ထွန်းလမ်း |
| ရန်ကင်းစာတိုက်၊ ရန်ကုန်မြို့။ | ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ဖုန်း ၀၁-၅၇၇၄၅၇ | ဖုန်း ၉၅-၁-၂၉၀၇၉၉၊ ၉၅-၁-၂၀၁၄၁၈၊ ၉၅-၁-၇၀၃၁၈၁ |
| ဖက်(စ်) ၀၉၅-၀၁-၅၇၇၃၀၉ | ၉၅-၉-၈၀၃၁၃၁၇ |
| | ဖက်(စ်) ၉၅-၁-၂၉၄၃၄၆ |

၁၄-၃ တစ်ဖက်မှတစ်ဖက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်း ပြန်ကြားရမည်။

၁၅။ **စာချုပ်အားလွှဲပြောင်းခြင်း**

၁၅-၁ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"၏ ကြိုတင်သဘောတူခွင့်ပြုချက်မရဘဲ၊ စာချုပ်ပါ တာဝန်ဝတ္တရားများအားလုံးအား၊ အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းခြင်း (သို့မဟုတ်) လုပ်ငန်း တစ်စိတ်တစ်ဒေသအား အပ်နှံဆောင်ရွက်စေခြင်းတို့ကို မပြုလုပ်ရ။

၁၆။ **စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း**

၁၆-၁ စာချုပ်အား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ ပြောင်းလဲခြင်းကိစ္စများနှင့် စပ်လျဉ်း၍ "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ နှစ်ဦးနှစ်ဘက် တရားဝင်သဘောတူညီချက်နှင့် မြန်မာ

နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့်သာ ပြုလုပ်နိုင်သည်။

၁၇။ **စာချုပ်အားပြန်လည်ညှိနှိုင်းခြင်း**

၁၇-၁ စာချုပ်သက်တမ်းအတွင်း၌ ကန်ထရိုက်တာနှင့် အမှတ်(၁)သတ္တုတွင်းကြီးတင် မမျှော်မှန်းနိုင်သေ
အခြေအနေတစ်ခုခုပေါ်ပေါက်ပါက၊ နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်
မှုကော်မရှင်၏ အတည်ပြုချက်ရယူကာ ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော် စာချုပ်၏
မူလ ရည်ရွယ်ချက်အား ပျက်ပြယ်ခြင်းမရှိစေရ။

၁၈။ **စာချုပ်၏နောက်ဆက်တွဲများ**

၁၈-၁ ဤစာချုပ်၏ နောက်ဆက်တွဲများသည် ဤစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်ရမည်။

၁၉။ **အစစ်အမှန်ဖြစ်ခြင်း**

၁၉-၁ ဤစာချုပ်အား၊ မြန်မာဘာသာဖြင့် ရေးသားပြီး မူရင်း(၂)စုံသာရှိ၍ တစ်ဖွဲ့စီ၌ တစ်စုံစီ ရှိရမည်။ ဤစာချုပ်အား၊ ၂၀၀၁ခုနှစ်၊ လ၊ ( )ရက်နေ့တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်တို့သည်သဘောတူ လက်မှတ်ရေးထိုးကြပါသည်။

| <u>အငှားချထားရသူအတွက်ကိုယ်စားပြုသူ</u> | <u>အငှားချထားခြင်းခံရသူအတွက်ကိုယ်စားပြုသူ</u> |
|---|---|
| (ဦးစောလွင်)<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၁)သတ္တုတွင်းလုပ်ငန်း<br><br>အမှတ်(၉၀)ကံဘဲ့လမ်း၊ ရန်ကင်းမြို့နယ်၊<br>ရန်ကုန်မြို့။ | (ဦးဘုန်းမြင့်)<br>အုပ်ချုပ်မှုဒါရိုက်တာ<br>မြန်မာအထွဋ်အထိပ်သတ္တုတွင်း<br>လုပ်ငန်းကုမ္ပဏီလီမိတက်<br>အမှတ်(၂၂၂)၊ ဗိုလ်မြတ်ထွန်းလမ်း၊<br>ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |

ကျွန်ုပ်တို့ရှေ့မှောက်တွင်လက်မှတ်ရေးထိုးပါသည် -

<u>အသိသက်သေများ</u>

၁။ အမည်၊ ...............................
ရာထူး၊ ...............................
ဌာန ၊ ...............................

၂။ အမည်၊ ...............................
ရာထူး၊ ...............................
ဌာန ၊ ...............................

နောက်ဆက်တွဲ (က)

နမ္မတူ-ဘော်တွင်းသတ္တုတွင်း၊ နမ္မတူတည်နေရာပြမြေပုံ

Slag Dump Sites
3628
1926
Pãnghai
(SHAN)
I-hang
(Shan)
2563
Ta-ma
Flue
Reservoir
PS
(B) PWD
2126
3142
Tunhu
1978
Namtu
Cemetery
Racecourse
Smelter Junction
Rifle range
Mansok

ပြည်ထောင်စုမြန်မာနိုင်ငံတော်



နောက်ဆက်တွဲ (ခ)

# ဝှားရမ်းမည့်မြေနေရာ တည်နေရာပြ မြေပုံ



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၅)၃-၁၄ (၆၈)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မတ်လ (၁၆)ရက်

အကြောင်းအရာ။ မြန်မာအထွေထွေအထိုဝ်သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီလီမိတက် (M-Apex Mining Co.,Ltd.)မှ သွပ်အောက်ဆိုက်ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ရန် မြေငှားစာချုပ်အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ

ရည်ညွှန်းချက်။ သတ္တုတွင်းဝန်ကြီးဌာန(ဝန်ကြီးရုံး)၏ ၁၉-၂-၂၀၀၁ ရက်စွဲပါစာအမှတ် ၁၆-အဖွဲ့ခွဲ (၁) ၂၀၀၁(၂၉၇)

၁။ အမှတ်(၁)သတ္တုတွင်းလုပ်ငန်းပိုင် နမ္မတူဘော်တွင်း၊သတ္တုတွင်းပိုင်မြေ(၅)ဧကကို သွပ်အောက်ဆိုက်ထုတ်လုပ်မည့် စက်ရုံတည်ဆောက်ရန်အတွက် မြန်မာအထွေထွေအထိုဝ် သတ္တုတွင်းလုပ်ငန်းကုမ္ပဏီလီမိတက်အားငှားရမ်းမည့် မြေငှားစာချုပ်အပေါ်သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စရပ်ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း) အပေါ် ဥပဒေကြောင်းအရလေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည်—

(က) စာချုပ်မူကြမ်းတွင်မပါရှိသော အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များကို အပိုဒ် ၆ အဖြစ်လည်းကောင်း၊ သဘာဝတပ္ပည်းတွေ့ရှိခြင်းကို အပိုဒ် ၇ အဖြစ်လည်းကောင်း အငှားချထားသူက ငှားရမ်းသည့်မြေကိုပြန်လည်ဝင်ရောက်ခွင့်အဖြစ် အပိုဒ် ၁၃ ကိုလည်းကောင်း၊ ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)မူလအပိုဒ် ၄ ပါအငြင်းပွားခြင်းနှင့်စေ့စပ်ညှိနှိုင်းဆောင်ရွက်ခြင်းအပိုဒ်ကို ပယ်ဖျက်ပြီး အနုညာတစီရင်ဆုံးဖြတ်ခြင်းအပိုဒ်ကို အပိုဒ် ၉ အဖြစ်လည်းကောင်း၊ စာချုပ်(မူကြမ်း)တွင် မပါရှိသော မလွန်ဆန်နိုင်သောဖြစ်ရပ်များအပိုဒ်ကို အပိုဒ် ၁၀ အဖြစ်လည်းကောင်း ဖြည့်စွက် slip ကပ်ပေးလိုက်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)မူလအပိုဒ် ၇.၅ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်းအပိုဒ်မှာ ပြည့်စုံမှုမရှိပါသဖြင့် အပိုဒ် ၁၆ အဖြစ်ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)မူလအပိုဒ် ၁(ဃ)တွင်အငှားချထားခြင်းခံရသူက ငှားရမ်းသောမြေနေရာတွင်ဆင့်တက်ပြုပြင်ရန် စက်ရုံကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောက်လုပ်လည်ပတ်မည်ဟု ဖော်ပြထားရာ ကုန်ကျစရိတ်ကို မည်သူက ကျခံမည်ဖြစ်ကြောင်းနှင့်စက်ရုံဆောက်လုပ်မည့်အချိန် ကာလသတ်မှတ်ချက်များကို စာချုပ်(မူကြမ်း)တွင်ဖော်ပြရန်လိုအပ်ပါသည်၊

(င) ထို့ပြင်စာချုပ်(မူကြမ်း)မူလအပိုဒ် ၆ "စွန့်လွှတ်ခြင်း" ခေါင်းစဉ်အစား၊ လွှဲပြောင်းခြင်းဟု ပြင်ဆင်ရေးသားသင့်ပါသည်။ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ ဖြစ်စေ၊ အကြောင်းတစ်ရပ်ရပ်ကြောင့် စာချုပ်ရပ်စဲရသောအခါဖြစ်စေ၊ ငှားရမ်းမြေပေါ်တွင် တည်ဆောက်ထားသောအဆောက်အဦးကို သတ္တုတွင်း(၁)သို့လွှဲပြောင်းသည့်အခါအဖိုးစားနားမပါရှိဘဲ လွှဲပြောင်းရန် ရည်ရွယ်ခြင်းဟုတ် မဟုတ်၊ ပြန်လည်စီစစ်ရန်နှင့်ထိုသို့လွှဲပြောင်းမည်ဆိုပါက အဖိုး စားနား မပါရှိဘဲ လွှဲပြောင်းမည်ဖြစ်ကြောင်း ဖြည့်စွက်ရေးသားသင့်ပါသည်၊

(စ) အခြားလိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ရေးသားပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ မြန်မာအထွေထွေအာမခံလုပ်ငန်းကုမ္ပဏီလီမိတက်သည် တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်ပုဂ္ဂိုလ်သည် တရားဝင်လွှဲအပ်ခံရသူဟုတ် မဟုတ် ကြိုတင်စိစစ်ထားသင့်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကိုလက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းအဖြစ်ထားရှိနိုင်ရန် ဤရုံးသို့မိတ္တူ(၃)စောင်ပို့ပေးပါရန်မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မေဒင်၊ ညွှန်ကြားရေးမှူး)

သမ္မတရုံးဝန်ကြီးဌာန(ဝန်ကြီးရုံး)

# DEFERRED PAYMENT LOAN AGREEMENT (Draft) TO PURCHASE OF MACHINERIES AND EQUIPMENTS ETC FOR MINING PRODUCTS




BETWEEN

**MYANMAR APEX MINING CO., LTD.**

AND

**XIAN METAL CO., LTD.**

This Loan Agreement is made on the day of ............................, 2001.

between

**Myanmar Apex Mining Co., Ltd.**, a Myanmar Company with its principal office of business at No. 220-222, Botahtaung Pagoda Road, Pazuntaung Township, Yangon, Union of Myanmar a Limited Company under the Myanmar Companies Act (hereinafter referred to as "Party A" which expression shall, unless repugnant to the context or the meaning thereof, be deemed to include its successors, legal representatives and permitted assigns) represented of the purpose of this Agreement by its Managing Director U Phone Myint of the one part.

and

**Xian Metal Co., Ltd.**, a Company of People Republic of China and its principal office of business at Xian Town, Shanxi Province, People Republic of China a company existing under the laws of People Republic of China, (hereinafter referred to as "Party B" which expression shall, unless repugnant to the context of the meaning thereof, be deemed to include its successors legal representatives and permitted assigns) represents for the purpose of this Agreement by its Managing Director, Mr. Li Gang, Citizen of People Republic of China of the other part.

1. WHEREAS The parties hereto are desirous of to land borrow for purchasing of Machines and equipment which required for setting up a Mining Factory to construct and operate in Yangon, Union of Myanmar by the party A's Capital and their management under the Myanmar Citizens Investment Law 1994.
2. WHEREAS The hereto agree to do the loan Agreement for the purpose of the party B to supply the Loan in Deferred Payment Purchase System to the Party A on the amount of US Dollar 15,00,000/- (US Dollar One Million Five Hundred thousand only) of machinery and equipments which required for the construction for operation of MINING FACTORY according to the discussion and agreement within the two parties were as follows.

3. **PAYMENT OF LOAN**

3.1 The Party B shall pay Deferred Payment to the Party A for the above loan on the amount of US Dollar 15,00,000/- (US Dollar One Million Five Hundred thousand only) when the party A get the necessary permit from the Myanmar Investment Commission to doing the business of the construction and operation of MINING FACTORY under the Myanmar Citizens Investment Law, 1994.

3.2 The list of machineries and spare parts required for the construction and operation of MINING FACTORY is attached in exhibit No. A, details invoice and other necessary documents for shipping, will be prepared when the Party A get the Permit from Myanmar Investment commission.

4. **REPAYMENT OF LOAN**

4.1 The Party A must repay for the above loan, after receiving the necessary machine & construction materials on the amount of US $ 15,00,000/- (US Dollar One Million Five Hundred thousand only), to the party B within for ( 5 ) years in equally and interest on loan at the rate of 3% per annum by reducing balance method. Therefore, the repayment for principal amount of loan and interest will be as follow:-

**PRINCIPAL AMOUNT**

| | | | |
|---|---|---|---|
| In 2001-02 | financial year | US$ | 3,00,000 |
| In 2002-03 | financial year | US$ | 3,00,000 |
| In 2003-04 | financial year | US$ | 3,00,000 |
| In 2004-05 | financial year | US$ | 3,00,000 |
| In 2005-06 | financial year | US$ | 3,00,000 |
| | **Total** | **US$** | **15,00,000** |

5. **INTEREST ON LOAN**

5.1 The Party A also must pay interest on loan at the rate of 3% per annum by reducing balance method. Therefore, the payment of interest on loan will be as follows:-

**INTEREST AMOUNT**

| | | | |
|---|---|---|---|
| In 2001-02 | financial year | US$ | 45,000 |
| In 2002-03 | financial year | US$ | 36,000 |
| In 2003-04 | financial year | US$ | 27,000 |
| In 2004-05 | financial year | US$ | 18,000 |
| In 2005-06 | financial year | US$ | 9,000 |
| | **Total** | **US$** | **135,000** |

## 6. EFFECTIVENESS

This Agreement shall be come into effect from the date of signing by parties and duly authenticated by witness, after obtaining the approval from the Myanmar Investment Commission for the proposed project of Party "A".

## 7. OBLIGATIONS OF "PARTY A"

(1) shall be exported the best quality of mining products.

(2) shall pay back the principal loan and interest to party B by ways of Mining Products or by Cash.

(3) to import the machinery, equipment and spare parts from "Part B" at C.I.F value for establishing the Mining Plant.

## 8. PRICE

(1) The Mining Products shall be fixed by International Price.

## 9. OBLIGATIONS OF "PARTY B"

(1) cannot increase the interest rate.

(2) to sell machinery, equipment and spare parts for the purpose of establishing the Mining Plant in Myanmar in terms of Deferred Payment Loan Agreement amounting to US$ 15,00,000/- (US Dollar One Million Five Hundred thousand only)

(3) To provide technical knowhow assistance and including salary of the technician and marketing knowhow for the production and operation of Mining processing.

(4) To Ship the machinery, equipment and spare parts by border trade (Muse)or by sea.

## 10. ARBITRATION

10.1 If any dispute arises over the interpretation or implementation of this Agreement, such dispute shall be settled amicably between both contracting parties through mutual discussion. Disputes arising between both contracting parties that cannot be settled amicably as mentioned above shall in the Union of Myanmar by arbitration, through two arbitrators appointed by and each representing one of the two contracting parties. Should the arbitrators failed to reach an agreement, the dispute shall be referred to an Umpire nominated by the arbitrators. The arbitration proceeding shall in all respect conform to the Arbitration Act, (Myanmar Act No. IV of 1944) or any subsisting statutory modifications thereof, the venue of arbitration shall Yangon, Union of Myanmar, or any place in the Union of Myanmar agreed by the both parties. The Arbitration Fees shall be borne by the, party against whom the award is made.

## 11. GOVERNING LAW

11.1 This Agreement shall be read, construed, interpreted and governed by the laws of the Union of Myanmar.

## 12. LAW OF PERFORMANCE

12.1 Both parties shall carry out their obligations arising out of this Agreement in accordance with the Laws, Rules, Regulations, Procedures and Directives of the Union of Myanmar.

## 13. MODIFICATION OF AGREEMENT

13.1 This Agreement shall not be annulled, amended or modified in any respect except by the mutual consent in writing of the parties.

13.2 Any amendment or modification to this Agreement shall be signed by the authorized representative of both parties and submitted to the Myanmar Investment Commission for approval and such amendment or modification shall then become an integral part of this Agreement upon approval being given:-

## 14. FORCE MAJEURE

14.1 If either party is temporarily rendered unable, wholly or in part, by Force Majeure to perform his duties or accept performance by the other party under this Agreement, it is agreed that the affected party give notice to the other party within 14 days after the occurrence of the cause relied upon giving particulars in writing of such Force Majeure. The duties of such party as are affected by such Force Majeure shall with approval of the other party, be suspended during the continuance of the disability so caused, but for no longer period, and such cause shall as far as possible be removed with all reasonable despatch. Neither party shall be responsible for delay caused by Force Majeure.

14.2 The term "Force Majeure" as employed herein shall mean Act of God, Restraint of a Government, Strikes, Lockouts, Industrial Disturbances, War, Blockades, Insurrections, Riots, Epidemics, Civil Disturbances, Explosions, Fires, Floods, Earthquakes, storms, Lightening and any other causes similar to the kind herein enumerated which are beyond the control of either party and which by the exercise of due care and diligence either party is unable to overcome.

## 15. RENEGOTIATION OF THE AGREEMENT

15.1 In the event that any situation or condition arises due to circumstances not envisaged in this Agreement and warrants to the Agreement, the parties shall make the necessary, negotiation.

## 16. NOTICE

16.1 All notices shall be in writing and forwarded in reliable manner to the other party at the address provided hereunder by the respective parties.




| | | |
|---|---|---|
| | Name | **U Phone Myint (Managing Director)**<br>**Myanmar Apex Mining Co., Ltd.** |
| | Adress | No. 220/222, Botahtaung Pagoda Road,<br>Pazundaung Township, Yangon. |
| | Tel: | 951-201418 / 959-80-31317 |
| | Fax: | 951-294346 |
| "Part B" | Name | **Mr. Li Gang (Managing Director)**<br>**Xian Metal Co., Ltd.** |
| | Address | Xian Town, Shanxi Province, People Republic of China, |
| | Tel: | 13809181555 |
| | Fax: | 0298317826 |

In the Present of

(1) ......................................

......................................

......................................

In the Present of

(2) ......................................

......................................

......................................

# LIST OF MACHINERIES AND EQUIPMENT Etc.

| Sr. No. | Particular | Qty. | Unit Price in US$ | Amount in US$ | Remark |
|---|---|---|---|---|---|
| 1 | Jaw Crusher PE 250 & Accessories | 5 Set | 3000 | 15000 | |
| 2 | Furnace & Accessories | 5 Set | 80000 | 400000 | |
| 3 | Air Compressor & Accessories | 5 Set | 12000 | 60000 | |
| 4 | Motor 300 KVA | 5 Nos | 2000 | 10000 | |
| 5 | Pump & Accessories | 1 Set | 5000 | 5000 | |
| 6 | Transformer 315 KVA | 1 Set | 40000 | 40000 | |
| 7 | Bulldozer | 2 Nos | 130000 | 260000 | |
| 8 | Loader | 2 Nos | 120000 | 240000 | |
| 9 | Backhoe / Hydraulic Excavator | 2 Nos | 120000 | 240000 | |
| 10 | Dump Truck ( 8-15 ton ) | 5 Nos | 10000 | 50000 | |
| 11 | Spare Parts for | | | | |
| | (1) Jaw Crusher | 1 Lot | 20000 | 20000 | |
| | (2) Furnace | 1 Lot | 50000 | 50000 | |
| | (3) Bulldozer | 1 Lot | 20000 | 20000 | |
| | (4) Loader | 1 Lot | 20000 | 20000 | |
| | (5) Backhoe | 1 Lot | 20000 | 20000 | |
| | (6) Electritical Spare | 1 Lot | 50000 | 50000 | |
| | Total | | | 1500000 | |



**ASIA WEALTH BANK LIMITED**

အာရှဝေဿဘဏ်လီမိတက်

亞洲經濟銀行

Dated the 26th January 2001

## Balance Confirmation Certificate

We confirm that the balance at credit of current / saving / call deposit account No 07010010000048130 of U / Daw U Phone Myint with the Asia Wealth Bank Ltd. ( China Town Branch) at the close of the business on 26-1-2001 is (K 80001000 ) Kyats Eighty Millions, One Thousand only only.

26.1.01

(Manager)

Asia Wealth Bank Ltd.

China Town Branch



တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ
ATTORNEY HOLDER PHOTO

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ
PARTICULARS OF ATTORNEY HOLDER

၁။ အမည် ..........
NAME

၂။ မှတ်ပုံတင်အမှတ် ..........
REGISTRATION NO.

၃။ အလုပ်အကိုင် ..........
OCCUPATION

၄။ နေရပ်လိပ်စာ ..........
ADDRESS

၅။ တယ်လီဖုန်းအမှတ် ..........
TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ ( ၃၂ ) ပါဝင်ပါသည်။
THIS PASSBOOK CONSISTS OF (32) PAGES.



စာရင်းအမှတ် 011.10333.N
ACCOUNT NO.






စာရင်းပိုင်ရှင်၏ဓာတ်ပုံ
ACCOUNT HOLDER PHOTO

စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER

M Apex Construction Co, Ltd

၁။ အမည် U Phone Myint
NAME

၂။ မှတ်ပုံတင်အမှတ် LSO. 119093
REGISTRATION NO.

၃။ အလုပ်အကိုင် Managing Director
OCCUPATION

၄။ နေရပ်လိပ်စာ Room C-2 Bldg. 222, Bo Myat Tun Housing, Pazundaung Tsp. Ygn.
ADDRESS

၅။ တယ်လီဖုန်းအမှတ် 290799, 201418
TELEPHONE NO.

ထုတ်ပေးသည့်ရက်စွဲ 12 AUG 1998
DATE OF ISSUE

## မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်

## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | | ထုတ်ငွေ WITHDRAWAL | | လက်ကျန်ငွေ BALANCE US.$ | | လက်မှတ် SIGNATURE |
|---|---|---|---|---|---|---|---|---|---|
| | | B/F | | | | | 84767 | - | MICB |
| | 29.5.2000 | To(m) Ivanhoe copper | | | 47461 | - | 37306 | - | MICB |
| | 21.6.2000 | By FEC | 61,000 | - | | | 104,306 | - | |
| | 22.6.2000 | To(m) Ivanhoe copper | | | 103801 | - | 505 | - | |
| | 15.8.2000 | By FEC | 30,000 | - | | | 30505 | - | MICB |
| | 23.8.2000 | A.223309 | | | 30,000 | | 505 | - | |
| | 8.9.2000 | From silver light | 50,000 | - | | | 50505 | - | MICB |
| | — | From Hnin Wun | 50,000 | - | | | 100,505 | - | MICB |
| | 11.9.00 | To(m) Ivanhoe copper | | | 98701 | - | 1,804 | - | |
| | 10.10.00 | From pwint Sann | 50,000 | - | | | 51,804 | - | MICB |
| | 18.10.00 | From pwint sann Tdg. | 100,000 | - | | | 151,804 | - | MICB |

# မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်
## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | | ထုတ်ငွေ WITHDRAWAL | | လက်ကျန်ငွေ BALANCE US. $ | | လက်မှတ် SIGNATURE |
|---|---|---|---|---|---|---|---|---|---|
| | 18.10.00 | B/F | | | | | 151804 | - | [stamp] |
| | 20.10.00 | From Thi lsar Co Co: | 300 | - | | | 152104 | - | |
| | — | From pacific star | 45600 | - | | | 197704 | - | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |

# OFFICE BUILDING

40'






FRONT ELEVATION

30'



RIGHT SIDE ELEVATION



To,

Registrar,
Companies Registration Office,
Ministry of National Planning & Economic Development,
Yangon.

Dated. the 15th January, 2001

Sir,

I hereby submit the following documents for Registration which are required under the Myanmar Companies Act.

Should you need further information regarding documents, I am pleased to furnish them without any hesitation.

1. Memorandum of Association.
2. Articles of Association.
3. Declaration of registration.
4. Declaration of registered office.
5. Declaration of legal version.
6. Translation of Certificate.
7. Company's (3) main objects.
8. List of directors.
9. Undertaking.

Yours sincerely.

( PHONE MYINT )

(Director)



မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာ့အထွဋ်အထိပ်သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

( ပုံကြမ်း )

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

MYANMAR APEX MINING COMPANY LIMITED

( DRAFT )



မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ့အတွင်းအထိပ် သတ္တုတွင်း လုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် " မြန်မာ့အတွင်းအထိပ်သတ္တုတွင်း လုပ်ငန်း ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၂၀၀၀၀၀၀၀၀၀ /-(ကျပ်နှစ်ဆယ်သန်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀/-(ကျပ်တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၂၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့်

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ပ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်ဆဲဖြစ်နေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်ဖြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

*(ဏ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုများ ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ရောင်းဝယ်ခြင်း လုပ်ငန်းများ ကိုပြုလုပ်ရန်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စိုက်ကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးဘုန်းမြင့်<br>အမှတ်- ၂၂၀–၂၂၂၊ ဗိုလ်တထောင်ဘုရားလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ ၁<br>အယ်လ်အက်စ်အို<br>၁၁၉၀၉၃ | ၁ | |
| ၂။ | ဦးအိုက်ဝှန်<br>အမှတ်- ၁၂/က၊ ကမ္ဘာ့အေးဘုရားလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။<br>( ကုန်သည် ) | မြန်မာ ၁<br>၉/မရမ<br>( နိုင် )<br>၀၃၇၉၉၆ | ၁ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာအလွှင့်အထိပ်သတ္တုတွင်း လုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၂၀၀၀၀၀၀၀၀ိ/-(ကျပ်နှစ်ရာသန်းတိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ိ/-(ကျပ်တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း ( ၂၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင်ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သောပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၆ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) **ဦး ဘုန်း မြင့်**

(၂) **ဦး အိုက် ဝှန်**

(၃)

(၄)

(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥပဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( – )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် ပတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



